6.3 **OBLIGATONS OF "PARTY B"**

(a) Shall supply necessary raw materials according to the order of production, shall allowed 4% wastages for local sale.

(b) Shall provide modern design and sizes of all sorts of garments.

(c) Shall provide modern production technique accroding to the market demand.

(d) Shall bear all expenses, including salaries, of the foreign technicians.

7. **EFFECTIVENESS**

7.1 This Agreement comes to effect from the date of signing by both parties and duly authenticated by witnesses, after obtaining the approval from the Myanmar Invest ment Commission for the proposed project of "Party A".

8. **ARBITRATION**

8.1 If any dispute arises over the interpretation or implementation of this Agreement, such dispute shall be settled amicably between both contracting parties through mutual discussions. Disputes arising between the contracting parties that cannot be settled amicably as mentioned above shall be settled in the Union of Myanmar by arbitration, through two arbitrators appointed by and each representing one of the two contracting parties.Should the arbitrators failed to reach an agreement, the dispute shall be referred to an Umpire nominated by the Arbitrators. The Arbitration proceeding shall in all respect conform to the Arbitration Act, 1944 (Myanmar Act No.IV of 1944) or any subsisting statutory modifications thereof. The venue of arbitration shall be Yangon, Myanmar or any place in Myanmar agreed by the both parties. The Arbitration Fees shall be borne by the losing party.

9. **GOVERNING LAW**

9.1 This agreement shall be read, construed, interpreted and governed by the laws of the Union of Myanmar.

10. **LAW OF PERFORMANCE**

10.1 Both parties shall carry out their obligations arising out of this Agreement in accordance with the Laws, Rules, Regulagions, Procedures and Directives of the Union of Myanmar.

## 11. FORCE MAJEURE

11.1 If either party is temporarily redered unable, wholly or in part, by Force Majeure to perform his duties or accept performance by the other party under this Agreement, it is agreed that the affected party give notice to the other party within 14 days after the occurrence of the cause relied upon giving particulars in writing of such Force Majeure. The duties of such party as are effected by such Force Majeure shall with approval of the other party, be suspended during the continuance of the disabilty so caused, but for no longer period, and such cause shall as far as possible be removed with all reasonalble despatch. Neither party shall be responsible for delay caused by Force Majeure.

11.2 The term "Force Majeure" as employed herein shall mean Act of God, Restraint of a Government, Strikes, Lockouts, Industrial Disturbances, War, Blockades, Insrrections, Riots, Epidemics, Civil Disturbances, Explosions, Fires, Floods, Earthquakes, Storms, Lighting and any other causes similar to the kind herein enumerated which are beyond the control of either party and which by the exercise of due care and diligence either party is unable to overcome.

## 12. RENEGOTIATION OF AGREEMENT

12.1 In the event that any situation or condition arises due to circumstances not envisaged in the agreement and warrants to the Agreement, the parties shall make the necessary negotiation.

## 13. NOTICE

13.1 All notices shall be in writing in English and forwarded in reliable manner to the other party at the address provided hereunder by the respective parties.

| | | |
|---|---|---|
| **"Party A"** | Name | - Cotton World Garment Co.,Ltd. |
| | Address | - Block No.(14), Ward No. Industrial Zone (3), Hlaing Tharyar Township, Yangon, Myanmar. |
| | Tel : | - |
| | Fax : | - |
| **"Party B"** | Name | - PROMITEX LTD. |
| | Address | - Room No. (1501), Tung Ying Building,100 Northen Road, Kwoloon, Hong Kong. |
| | Tel : | - |
| | Fax : | - |

Any notice required and given by either party to the other shall be deemed to have been delievered when property acknowledged for receipt by the party either party may substitute or change its address in writing then of to the other.

14. **MODIFICATION**

14.1 This Agreement shall not be annulled, amended or modified in any respect except by the mutual consent in writing by both Parties to this agreement.

IN WITNESS WHEREOF the Parties hereto have executed this Agreement according to the terms and conditions set forth on the date first above written.

For and on behalf of "Party A"

Daw Yin Le Yin
Director
**Cotton World Garment Co., Ltd.**

For and on behalf of "Party B"

Mr. Lui Wah Chow
Director
**Promitex Ltd.**

**In the Presence of**

____________________
____________________
____________________

____________________
____________________
____________________

Annexure ( 1 )

**Cotton World Garment Co.,Ltd.**

**List of Machineries and Equipment (to be Imported)**

| Sr. No. | Particular | Unit | Qty | Price in (US$) | Value in (US$) |
|---|---|---|---|---|---|
| 1 | All Kinds of Scissors | unit | 1000 | 5 | 5000 |
| 2 | Automatic boiler for 6 steam iron | set | 2 | 4210 | 8420 |
| 3 | Band Knife Cutting Machine | set | 3 | 1500 | 4500 |
| 4 | Button Hole Sewing Machine | set | 12 | 480 | 5760 |
| 5 | Button Sewing Machine | set | 8 | 320 | 2560 |
| 6 | Color positioning Machine | set | 2 | 1500 | 3000 |
| 7 | Color pressing Machine | set | 8 | 120 | 960 |
| 8 | Color Turner Machine | set | 8 | 115 | 920 |
| 9 | Cuff pressing Machine | set | 5 | 120 | 600 |
| 10 | Cutting, tape machine | set | 4 | 450 | 1800 |
| 11 | Double Needle Chain Stitch, Feed of the Arm machine | set | 15 | 850 | 12750 |
| 12 | Double Needle DP-14 | Packge | 500 | 4 | 2000 |
| 13 | Elastic / Waist Machines | set | 4 | 1900 | 7600 |
| 14 | Eyelet Button Hole Machine | set | 3 | 2000 | 6000 |
| 15 | Five Thread Over Lock Machine | set | 20 | 512 | 10240 |
| 16 | Four Thread Over Lock Machine | set | 50 | 500 | 25000 |
| 17 | Four Needle Vertical Lopper Double Chain Stitch Flatbet Sewing Machine | set | 5 | 420 | 2100 |
| 18 | Fusing Machine | set | 6 | 300 | 1800 |
| 19 | Hand knife (10") | set | 15 | 450 | 6750 |
| 20 | Hand knife (8") | set | 5 | 500 | 2500 |
| 21 | Iron Table | set | 40 | 257 | 10280 |
| 22 | Lockstitch Bartacking Sewing Machine | set | 5 | 300 | 1500 |
| 23 | Oil Dynamic Clicking Press With Turning Arm Machine | set | 3 | 200 | 600 |
| 24 | One Needle Lockstitch Trimmer Machine | set | 20 | 140 | 2800 |
| 25 | Over Lock (DC 11/DC 14) | Packge | 1500 | 5 | 7500 |
| 26 | Packing Machine | set | 4 | 1500 | 6000 |
| 27 | Paralled Two Needle Double Chain Stitch Sewing Machine | set | 10 | 610 | 6100 |
| 28 | Piece Goods Chacking Machine | set | 3 | 180 | 540 |
| 29 | Piece Goods Laying Machine for Cutting Section (S) | set | 2 | 100 | 200 |
| 30 | Pocket Pressing Machine | set | 5 | 120 | 600 |
| 31 | Piece Goods Laying Machine for Cutting Section (L) | set | 3 | 120 | 360 |
| 32 | Single Needle (DB11/DB14/DB10) | Packge | 2000 | 4 | 8000 |
| 33 | Single Needle Machine | set | 350 | 190 | 66500 |
| 34 | Steam Iron | set | 40 | 110 | 4400 |
| 35 | Steam Boiler | set | 2 | 320 | 640 |
| 36 | Table End Cutter Machine | set | 3 | 55 | 165 |
| | **SUB TOTAL ( 1 )** | | | | **226445** |

| Sr. No. | Particular | Unit | Qty | Price in (US$) | Value in (US$) |
|---|---|---|---|---|---|
| 37 | Thread Blowing Machine | set | 5 | 135 | 675 |
| 38 | Three Needle Five Thread Interlock Machine | set | 70 | 600 | 42000 |
| 39 | Three Thread Overlock Machine | set | 15 | 420 | 6300 |
| 40 | Time Card Machine | set | 8 | 1000 | 8000 |
| 41 | Two Needle Double Chainstitch Sewing Machine | set | 25 | 560 | 14000 |
| 42 | Two Needle Feed Lockstitch Sewing Machine | set | 30 | 200 | 6000 |
| 43 | Water Softener Machine | set | 2 | 180 | 360 |
| 44 | Computer & Printer | set | 3 | 750 | 2250 |
| 45 | Copier | set | 2 | 1200 | 2400 |
| 46 | Generator (250 KVA/ 450 KVA) | set | 2 | 21290 | 42580 |
| 47 | Series Embroidery Machine | set | 2 | 16995 | 33990 |
| 48 | Tubular Machine | set | 1 | 5000 | 5000 |
| | **SUB TOTAL ( 2 )** | | | | **163555** |
| | **SUB TOTAL ( 1 )** | | | | **226445** |
| | **TOTAL** | | | | **390000** |

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့ ။

ရက်စွဲ။ ။ ၂၀၀၀ ပြည့်နှစ်၊ အောက်တိုဘာ ၁(၁၁) ရက် ။

အကြောင်းအရာ။ ။ <u>မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်ထားရှိမည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း၊</u>

COTTON WORLD GARMENT CO., LTD. သည်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ၊ အထည်ချုပ်လုပ်ငန်းကို၊ လုပ်ကိုင်ဆောင်ရွက်ရန်ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းအနေဖြင့်မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုအောက်ပါအတိုင်းစီမံဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(က) စက်ရုံဝင်းအတွင်းရေဂါလံ (၃၀၀၀)ဆန့် မြေအောက်ကွန်ကရစ်ရေကန် ( UNDERGROUND CONCERTE TANK ) (၂) လုံးတည်ဆောက်သွားပါမည်။

(ခ) ၎င်းရေကန်(၂) ကန်၏အနီးတွင်အစဉ်သင့်အသုံးပြုနိုင်ရန် 10 HP မှိုမော်တာနှင့်ရေစုပ်စက်အပါ အဝင်မီးသတ်ပိုက်နှင့်ပိုက်ခေါင်း(၂)စုံစီကိုထားရှိပါမည်။

(ဂ) စက်ရုံအဆောက်အဦး(၂) လုံးအတွင်းတွင်မီးသတ်ဆေးဘူးများကိုတလုံးနှင့်တလုံး (၁၀)ပေအကွာ စီထားရှိပါမည်။

(ဃ) သဲပုံး၊ ရေပုံးများအပါအဝင်မီးချိတ်၊ မီးကတ် တို့ ဖြင့်မီးသတ်စင် (၅) စင်ကို စက်ရုံဝင်းအတွင်း သင့်တော်ရာနေရာ(၅)နေရာတွင် အသင့်အနေအထားဖြင့် ထားရှိပါမည်။

(င) စက်ရုံ၏ဘေးထွက်ဖြစ်သော ပိတ်စများ၊ စက္ကူစများနှင့်အခြားအမှိုက်များကိုနေရာသတ်မှတ်၍ ပုံထားပြီး၊ မြို့ နယ်စည်ပင်သာယာရေးကော်မတီရုံး၏ ညွှန်ကြားချက်အရ အမှိုက်စွန့် ပစ်ခြင်း ကိုပြုလုပ်ပါမည်။

(စ) မြို့ နယ်မီးသတ်တပ်ဖွဲ့ မှ အခါအားလျော်စွာ၊ ပို့ ချသည့်အခြေခံမီးသတ်သင်တန်းများသို့ စက် ရုံမှဝန်ထမ်းအလုပ်သမား(၁၀) ဦးကိုတက်ရောက်စေပြီး ၎င်းတို့ ကိုအဖွဲ့ ခေါင်းဆောင်များအဖြစ် တာဝန်ပေးအပ်ပြီးမီးကာကွယ်ငြိမ်းသတ်ရေးအဖွဲ့ များဖွဲ့ စည်းထားရှိမည်ဖြစ်ကြောင်း တင်ပြအပ် ပါသည်။

လေးစားစွာဖြင့်

ဒေါ်ရင်လီရင်
ဒါရိုက်တာ
COTTON WORLD GARMENT CO., LTD

## မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)

ဤမြေငှားရမ်းခြင်း သဘောတူစာချုပ် (နောင်တွင် **"အငှားစာချုပ်"** ဟုခေါ်ဆိုရမည်) ကို၊ ရန်ကုန်မြို့၌ ၂၀၀၀ ပြည့်နှစ် -------------------- လ ---------- ရက်နေ့တွင် အမှတ် (၁၉/အေ)၊ ဗိုလ်ရာညွန့်လမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့နေ ဦးရင်ရိဘော် (အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/မဆတ(ပြု) ၀၀၀၀၅၃) (ဤမှ နောင်တွင် **"အငှားချထားသူများ"** ဟု ရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင်၊ စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်း မရှိပါက၊ ၎င်း၏တရားဝင် ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုလွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)တို့က တစ်ဖက်

နှင့်

ပြည်ထောင်စုမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့် ကုမ္ပဏီလီမိတက်တစ်ခု ဖြစ်သော Cotton World Garment Co., Ltd. (ဤမှ နောင်တွင် **"အငှားချထားခြင်းခံရသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏တရားဝင်ကိုယ်စားလှယ်များဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုလွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) က ဤအငှားစာချုပ်အား ချုပ်ဆိုရန်၊ ကိုယ်စားပြုတာဝန် ပေးအပ်ခြင်းခံရသော ဒါရိုက်တာ ဒေါ်ရင်လီရင့်က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ အငှားစာချုပ် ကိုချုပ်ဆိုကြပါသည်။

### ၁။ ရည်ရွယ်ချက်

အငှားစာချုပ်အရ "အငှားချထားခြင်းခံရသူ" သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း (၃)၊ မြေကွက်အမှတ် (၁၄)တွင်တည်ရှိသော ပူးတွဲမြေပုံပါ မြေ (၁. ၈၈၅)ဧကအနက် ဆေးရောင်ခြယ်ဖော်ပြထားသော မြေ (၀. ၉၄၁)ဧက အကျယ်အဝန်း ရှိသောမြေကွက်ကို အထည်ချုပ်စက်ရုံတည်ထောင်ရန်အတွက် ကနဦး (၁၀) နှစ် ငှားရမ်းခြင်း ဖြစ်ပါသည်။

### ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

အငှားချထားသူသည် ဤမြေကို မိမိလက်ဝယ်တွင်ရှိပြီး၊ တရားဝင်ပိုင်ဆိုင်မှုရှိကြောင်း အာမခံသည်။ ဤမြေကို အငှားချထားခံရသူအား အငှားချထားရန် သဘောတူသည်။ ဤအငှားချထားခြင်းခံရသူသည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံသော ကုမ္ပဏီလီမိတက် ဖြစ်ပါသည်။ ဤစာချုပ်တွင် လက်မှတ် ရေးထိုးသူ နှစ်ဖက်စလုံးသည် ဤသဘောတူစာချုပ် ချုပ်ဆိုနိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့် ပြည့်စုံသူများ ဖြစ်ကြောင်း အာမခံသည်။

၃။ ဆောင်ရွက်ရမည့်ဥပဒေသ

ဤအငှားစာချုပ်ဝင်များသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ အငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များကို အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၄။ ငှားရမ်းသည့်အချိန်ကာလ

အထည်ချုပ်စက်ရုံတည်ထောင်ရန်အတွက် ငှားရမ်းမည့်ကာလမှာ ကနဦး (၁၀) နှစ်ဖြစ်ပြီး၊ ငှားရမ်းကာလမှာ သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်သတ်မှတ်ရမည်။ ထိုသက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင် (၅) နှစ်စီဖြင့်၊ နှစ်ကြိမ်သက်တမ်းတိုးမြှင့်နိုင်ရေးအတွက် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူ နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက်နှင့်အညီ ဆက်လက်ငှားရမ်းမည် ဖြစ်ပါသည်။

၅။ ငှားရမ်းခ

ငှားရမ်းခနှုန်းများကို အောက်ပါအတိုင်း ပေးချေရမည် -

(က) အထည်ချုပ်စက်ရုံတည်ထောင်ရန်အတွက် တစ်လလျှင် ကျပ် (၂၀၀,၀၀၀) နှုန်းဖြင့် တစ်နှစ်အတွက် ငှားရမ်းခအဖြစ် ကျပ် ၂,၄၀၀,၀၀၀ကို အငှားချထားခြင်းခံရသူက အငှားချထားသူသို့ ပေးချေရမည်။

(ခ) ငှားရမ်းခကို သက်ဆိုင်ရာ ဘဏ္ဍာရေးနှစ်အတွင်း (၃) လ တစ်ကြိမ်အတွက် ယင်းသုံးလ ကုန်ဆုံးပြီးနောက် ပထမလ၏ဆယ်ရက်အတွင်း ပေးချေရမည်။

(ဂ) ငှားရမ်းခကို အစိုးရအဖွဲ့၏ ညွှန်ကြားချက် အမှတ် ၃/၉၀ နှင့် အမှတ် ၅/၉၃ တို့နှင့်အညီ ငါးနှစ်တစ်ကြိမ် ငှားရမ်းခနှုန်းခများကို ပြီးခဲ့သော (၅) နှစ်တာကာလ၏ ငှားရမ်းခနှုန်းထားများထက် ၁၅% (တစ်ဆယ့်ငါးရာခိုင်နှုန်း) ထက် မပိုစေဘဲ ညှိနှိုင်းပြင်ဆင် သတ်မှတ်ခွင့်ရှိသည်။

၆။ **အငှားစာချုပ်၏ အကျိုးသက်ရောက်မှုနှင့်ကာလ**

(က) ဤအငှားစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူများ ဤစာချုပ်ပေါ်တွင် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်ရမည်။

(ခ) ငှားရမ်းခြင်းကာလကို လုပ်ငန်းများ ပုံမှန်စတင်သည့်ရက် သို့မဟုတ် စာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့အနက်၊ စောသည့်ရက်မှ စတင်ရေတွက်ရမည်။

၇။ စာချုပ်သက်တမ်းတိုးခြင်း

စာချုပ်သက်တမ်းတိုးခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်နိုင်သည် -

(က) အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၃) လ ကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြ၍ အငှားချထားသူသို့ တင်ပြရမည်။

(ခ) အငှားချထားသူက ဆက်လက်ငှားရမ်းလိုပါက ထပ်မံငှားရမ်းသည့် ကာလအတွက် ငှားရမ်းခနှုန်းထားနှင့် စာချုပ်စည်းကမ်းချက်များကို နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက်ကိုရယူပြီး ဆက်လက်ငှားရမ်းခွင့် ရှိစေရမည်။

(ဂ) စာချုပ်ပါ အငှားသက်တမ်းကုန်ဆုံးပြီးနောက် နှစ်ဦးနှစ်ဖက်မှ ဆက်လက်ငှားရမ်းလိုခြင်းမရှိလျှင်သော်၎င်း၊ ငှားရမ်းခြင်းသက်တမ်းပြည့်မြောက်သည့်အခါသော်၎င်း၊ မူလငှားရမ်းထားသည့် မြေနှင့် အငှားချထားခြင်းခံရသူမှ ထပ်မံဆောက်လုပ်မည့် အဆောက်အအုံနှင့်မရွှေ့မပြောင်းနိုင်သော ပစ္စည်းများအပါအဝင်အငှားချထားသူသို့ အဖိုးစားနားမပေးဘဲ ပြန်လည်လွှဲပြောင်းပေးရပါမည်။

၈။ "အငှားချထားခြင်းခံရသူ" ၏ တာဝန်များ

အငှားချထားခြင်းခံရသူ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "ငှားရမ်းခ" ကို မြေခွန်မှအပ အခြားသော လုပ်ငန်းနှင့်ဆိုင်သည့် အဖွဲ့အစည်းများအား ပေးဆောင်ရမည့် အခွန်အခများကို တာဝန်ယူရန်။

(ခ) အငှားချထားသည့်မြေကိုအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းကိုသော်လည်းကောင်း နိုင်ငံသားများကို ဖြစ်စေ၊ နိုင်ငံခြားသားကိုဖြစ်စေ၊ ထပ်ဆင့် ငှားရမ်းခြင်း၊ လွှဲပြောင်းပေးခြင်း သို့မဟုတ် လွှဲအပ်ခြင်းတို့ကို မပြုလုပ်ရန်။

(ဂ) ငှားရမ်းထားသော မြေပေါ်တွင်အထည်ချုပ်လုပ်ငန်း တည်ထောင် လုပ်ကိုင်ရေးအတွက်သာ အသုံးချရန်။

(ဃ) ငှားရမ်းသည့်မြေပေါ်တွင် အထည်ချုပ်လုပ်ငန်းနှင့် သက်ဆိုင်သောကိစ္စရပ်များပေါ်တွင် "အငှားချထားခြင်းခံရသူ" ၏ ဆောင်ရွက်ချက်များအားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ ဥပဒေများနှင့်အညီဖြစ်ကြောင်း တာဝန်ယူကတိပြုရန်။

(င) ရေဆိုးများ မရှိစေရန်နှင့် စွန့်ပစ်စနစ်တည်ဆောက် အကောင်အထည်ဖော်ရေးနှင့် မြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေနှင့် ညွှန်ကြားချက်များနှင့်အညီ ဒေသအလိုက် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးတို့အတွက် အစီအမံများ ပြုလုပ်ရန်။

(စ) ဤအငှားသဘောတူစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင်အက်ဥပဒေအရ မှတ်ပုံတင်ရမည်။ အငှားသဘောတူစာချုပ်ကို မှတ်ပုံတင်ခြင်းဖြင့် ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။

(ဆ) ငှားရမ်းခများကို သတ်မှတ်နှုန်းထားနှင့် သတ်မှတ်သော နည်းလမ်းများအတိုင်း အတိအကျ ပေးချေရမည်။

(ဇ) သက်ဆိုင်ရာ အာဏာပိုင်များထံမှ လိုအပ်သောခွင့်ပြုချက်များနှင့် အထည်ချုပ်စက်ရုံ တည်ထောင်ရန် အသုံးချမှုအား အငှားချထားခြင်းခံရသူထံသို့ လွှဲပြောင်းပေးအပ်ခြင်းအတွက် လိုအပ်သောခွင့်ပြုချက်များ ရယူပေးရန်။

(ဈ) အငှားချထားသည့်မြေလွတ်တွင် (၆၀'x၁၈၀') ရှိ စက်ရုံနှင့် (၆၀'x၈၀') ရှိ ရုံးခန်းနှင့် ဂိုဒေါင် အဆောက်အဦ (၂) လုံးအား တည်ဆောက်ရန်အတွက် အငှားချထားသူ၏ ခွင့်ပြုချက်ကိုရယူရမည်။

၉။ "အငှားချထားသူ"၏ တာဝန်များ

အငှားချထားသူ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် ငှားရမ်းကာလအတွင်း အငှားချထားသော ပစ္စည်းများကို အေးငြိမ်းချမ်းသာစွာ လက်ဝယ်ထားပိုင်ခွင့် ရှိစေရန်အတွက် "အငှားချထားသူ"က သော်လည်းကောင်း၊ "အငှားစာချုပ်" ကို ကိုယ်စားပြုသူဟု တရားဝင် ဖော်ထုတ်နိုင်သူက သော်လည်းကောင်း၊ ဤ "အငှားစာချုပ်" အတည်ဖြစ်နေသည့်ကာလအတွင်း ဝင်ရောက် စွက်ဖက်ခြင်း သို့မဟုတ် မည်သည့်ပုံစံ သဘာဝအရမဆို အနှောင့်အယှက်ဖြစ်ခြင်းများ မရှိစေရန်။

(ခ) မြေခွန်ကို ပေးဆောင်ရန်။

(ဂ) အငှားချထားခြင်းခံရသူမှ တည်ဆောက်မည့် (၆၀'×၁၈၀') ရှိ စက်ရုံနှင့် (၆၀'×၈၀') ရှိ ရုံးခန်းနှင့် ဂိုဒေါင်အဆောက်အဦ (၂) လုံး ဆောက်လုပ်ခြင်းကိုခွင့်ပြုရန်။

၁၀။ "အငှားစာချုပ်" ရပ်စဲခြင်း

(က) ဤ "အငှားစာချုပ်" ကို အောက်ဖော်ပြပါ အခြေအနေ အဖြစ်အပျက် တစ်ရပ်ရပ်ဖြစ်ပေါ်ပါက ရပ်စဲနိုင်သည်။

၁။ (က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) အငှားသဘောတူစာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်များ ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်း မပြုလုပ်နိုင်သော မလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ (၆) လထက် ပိုမိုဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကို အကောင်အထည် ဖော်နိုင်စွမ်း မရှိခြင်း၊

(င) "အငှားချထားခြင်းခံရသူ" က အထည်ချုပ်လုပ်ငန်း ကို "မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ" အခန်း (၁၁) ပုဒ်မ ၃၉ နှင့် ၄၀ တို့အရ ရပ်စဲလိုကြောင်း "မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်" သို့ တင်ပြပြီး ကော်မရှင်၏ သဘောတူညီချက်ရလျှင် လည်းကောင်း၊

(စ) "အငှားချထားခြင်းခံရသူ" သည် ဤ "အငှားစာချုပ်" ချုပ်ဆိုပြီးနောက် ၁၂ (တစ်ဆယ့်နှစ်)လ ကာလအတွင်း လုပ်ငန်းကိုစတင်မှုမပြုလျှင်သော် လည်းကောင်း၊

(ဆ) "အငှားချထားခြင်းခံရသူ" သည် ဤ "အငှားစာချုပ်" ပါ သဘောတူညီချက်များကို ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန် ပျက်ကွက်ပြီး ထိုပျက်ကွက်ခြင်းများအတွက် ခိုင်လုံသော အကြောင်းပြချက်များ မပြလျှင်သော်လည်းကောင်း၊

၂။ သို့သော်ငြားလည်း အငှားချထားခြင်း ခံရသူသည် ၎င်း၏လုပ်ငန်းများ ဆက်လက် ဆောင်ရွက်နိုင်ရန်နှင့် ပြန်လည်တည်ထောင်မှုပြုလုပ်နိုင်ရန်အတွက် ဤသဘောတူစာချုပ်ပါ ၎င်း၏ အရေးအရေးများကို ခြွင်းချက်အဖြစ် သတ်မှတ်ချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်ကိုရပ်စဲလိုပါက ရပ်စဲလိုကြောင်း အကြောင်းကြားစာကို အခြားတစ်ဖက်ထံသို့ (၃) လကြိုတင်၍ပေးပို့အသိပေးရမည်။

၃။ ဤသို့ သဘောတူစာချုပ်ရပ်စဲရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက်ရရှိမှသာလျှင် စာချုပ်ရပ်စဲခွင့်ရှိသည်။

၁။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်

ဤ "အငှားစာချုပ်" ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖော်ခြင်းတို့အတွက် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ အာဏာပိုင်အဖွဲ့အစည်းများထံမှ လိုအပ်သည့် သဘောတူညီချက် ခွင့်ပြုချက်နှင့်လုပ်ဆောင်ခွင့်ပြုချက်များ ရရှိပြီးမှုအပေါ်တွင် တည်ရှိပါသည်။

၂။ လွှမ်းမိုးသည့်ဥပဒေ

ဤ "စာချုပ်" သည် မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီသာ ဖြစ်စေရမည်။ ထို့အပြင် စာချုပ်နှင့်စပ်လျဉ်းသော ကိစ္စအရပ်ရပ်တွင်မြန်မာနိုင်ငံတရားရုံးများ၏ စီရင်ပိုင်ခွင့်ကို နာခံရမည်။

၃။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

အကယ်၍ ဤ စာချုပ်ဝင် တစ်ဦးဦးက စာချုပ်ပါတာဝန်များ ဆောင်ရွက်ရန် သို့မဟုတ် အခြားတစ်ဦး၏ ဆောင်ရွက်မှုကို လက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့်အခြေအနေကို သက်ရောက်စေသော လူတို့ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များ သို့မဟုတ် မည်သည့်ဖက်ကမျှ ကြိုးစားအားထုတ်ဆောင်ရွက်မှုဖြင့် ကျော်လွှားဆီးမရနိုင်သော ဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်များကို ထမ်းဆောင်ရန် ပျက်ကွက်ပါက ယင်းဆိုပါ မလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၁၄) ရက်အတွင်း အခြားတစ်ဖက်သို့စာဖြင့် အကြောင်းကြားရမည်။ အခြားတစ်ဖက်ကလည်း မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ပေါ်ပေါက်ကြောင်း လက်ခံပါက စာချုပ်ချုပ်ဆိုသူ နှစ်ဦးနှစ်ဖက်စလုံးတွင် မည်သည့်တာဝန်မျှ မရှိစေရ။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက်သည့်ကာလကို စာချုပ်သက်တမ်းကာလမှ ထုတ်နှုတ်ရန် သဘောတူကြပါသည်။

မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ ငလျင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊

၁၄။ အနုညာတ စီရင်ဆုံးဖြတ်ခြင်း

အကယ်၍ ဤအငှားသဘောတူစာချုပ်ပါ အချက်အလက်များနှင့် ပတ်သက်ပြီး အကောင်အထည်ဖော် ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ် လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများဖြစ်ပေါ်လာပါက သဘောတူ စာချုပ်တွင် လက်မှတ်ရေးထိုးထားသည့် နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်းဆွေးနွေးခြင်းဖြင့် အငြင်းပွားမှုများကို ပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက် အကျေအလည် ညှိနှိုင်းဆွေးနွေး၍ မရရှိပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက် ခုံသမာဓိလူကြီးတစ်ဦးစီ ခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့် ရှိသည်။ နှစ်ဦးနှစ်ဖက်မှ တင်မြှောက်ထားသော ခုံသမာဓိလူကြီးများမှ အငြင်းပွားမှုများကို ပြေလည်အောင် ဖြေရှင်းပေးနိုင်ခြင်းမရှိခဲ့ပါက အဆိုပါ ခုံသမာဓိလူကြီးများ သဘောတူသော ဒိုင်လူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက်စလုံးမှ လက်ခံကြရမည်။ ၎င်းခုံသမာဓိ လူကြီးများ၏ အဆုံးအဖြတ်မှာ အနုညာတစီရင်ဆုံးဖြတ်ခြင်း၊ အက်ဥပဒေ (၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအက်ဥပဒေ အမှတ် ၄ )အရ ဖြစ်ရပါမည်။ ခုံသမာဓိအဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန် နေရာမှာ ရန်ကုန်မြို့၊ ပြည်ထောင်စုမြန်မာ နိုင်ငံတွင် ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို အမှုရှုံးသည့်ဘက်မှ ကျခံပေးဆောင်ရမည်။

၁၅။ အကြောင်းကြားစာ

ဤအငှားစာချုပ်နှင့် ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါ လိပ်စာများအတိုင်း မြန်မာဘာသာဖြင့် ရေးသားပြီးလျှင် စာတိုက်မှ မှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ သို့မဟုတ် တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့် ဖြစ်စေ၊ နှစ်ဦးနှစ်ဖက် ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ်ချုပ်ဆိုစဉ်က လိပ်စာအတိုင်း သော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့် အခြား လိပ်စာဖြင့်သော်လည်းကောင်း၊ (၁၄) ရက်အတွင်း ဆက်သွယ်ပေးပို့ရမည်။

လိပ်စာများမှာ -

(က) "အငှားချထားသူ" ၁။ (၁) အမည် - ဦး ရင်ဝိုင်း

(၂) လိပ်စာ - အမှတ် (၁၉/အေ)၊ ဗိုလ်ရာညွန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။

(၃) ဖုံးအမှတ် -

(၄) ဖက်စ်နံပါတ် -

(၅) တဲလက်နံပါတ် -

(ခ) "အငှားချထားခြင်းခံရသူ" (၁) အမည် - ဒေါ်ရင်လီရင့်
(၂) လိပ်စာ - မြေကွက်အမှတ် (၁၄)၊ မြေတိုင်းရပ်ကွက် အမှတ် ၁ပိုင်း (၃)၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။
(၃) ဖုံးအမှတ် -
(၄) ဖက်စ်နံပါတ် -
(၅) တဲလက်နံပါတ် -

ယခုကဲ့သို့ စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကို လက်ခံရယူသည့်ဖက်မှ လက်ခံရရှိပြီးဖြစ်ကြောင်း၊ အကြောင်းပြန်ကြားစာ ရရှိပြီးမှသာလျှင် ပေးပို့ခြင်းကိစ္စ ပြီးမြောက်ပြီးဖြစ်သည်ဟု အတည်ပြုနိုင်သည်။ အကယ်၍ တစ်ဖက်ဖက်မှ လိပ်စာအပြောင်းအလဲရှိပါက စာဖြင့်ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

**၁၆။ ဓါတ်သတ္တုအရင်းအမြစ်များနှင့် ရတနာများ**

ဤအငှားစာချုပ်အရ အငှားချထားစဉ် ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းမြေမှ ထွက်ပေါ် ရရှိလာသော ဓါတ်သတ္တု အရင်းအမြစ်နှင့် ရတနာများသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရနှင့်သာ သက်ဆိုင်စေရမည် ဖြစ်ပြီး "အငှားချထားသူ" သည် သက်ဆိုင်ရာ မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများသို့ အကြောင်းကြား တင်ပြလွှဲပြောင်းခွင့် ရှိစေရမည်။

**၁၇။ စာချုပ်ကို ပြန်လည်ညှိနှိုင်းခြင်း**

"အငှားစာချုပ်" တွင် မဖော်ပြမိခဲ့သော အချက်အလက် သို့မဟုတ် အခြေအနေ တစ်ရပ်ပေါ်ပေါက်ပြီး၊ စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်တို့ ညှိနှိုင်းကြပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကို ရယူလျက် စာချုပ်၏အချက်အလက်နှင့် သတ်မှတ်ချက်များကို လိုအပ်ချက်အရ ပြင်ဆင် ညှိနှိုင်းရန်နှင့် ပြင်ဆင်ချက်များသည် စာချုပ်ကြီး၏ အစိတ်အပိုင်းတစ်ခုအဖြစ် မှတ်ယူရမည်။

**၁၈။ စာချုပ်၏ တစ်စုတစ်ပိုင်းတည်း အစိတ်အပိုင်း။**

ဤ "အငှားစာချုပ်" နှင့်အတူ ပူးတွဲဖော်ပြထားသော နောက်ဆက်တွဲများနှင့် မြေပုံများသည် ဤစာချုပ်၏ အရေးကြီးသော အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်စေရမည်။

**၁၉။ ပတ်ဝန်းကျင်ကို ကာကွယ်ထိန်းသိမ်းခြင်း**

အထည်ချုပ်လုပ်ငန်းများဆောင်ရွက်ရာ၌ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရန် လူသုံးကုန်ပစ္စည်းထုတ်လုပ် ရေးကုမ္ပဏီလီမိတက်တွင် တာဝန်ရှိသည်။ ကုမ္ပဏီသည် လေ၊ ရေ၊ မြေနှင့် ပတ်ဝန်းကျင်ကိုထိန်းသိမ်း၍ လိုအပ် သော ဆောင်ရွက်မှုများ စီမံခန့်ခွဲမှုများပြုလုပ်၍ သဘာဝပတ်ဝန်းကျင်ကို အကာအကွယ်ပေးရမည်။

၂၀။ အထွေထွေ

ဤအငှားစာချုပ်ပါ အချက်အလက်များကို သိရှိသဘောပေါက်နားလည်ပြီးဖြစ်သည့်အလျောက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ဤစာချုပ်အထက်တွင် ဖော်ပြထားသည့်အတိုင်း အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုး ရိုက်နှိပ်ကြပါသည်။

"အငှားချထားသူ"

ဦးရင်ရိဘော်
အမှတ် (၁၉/အေ)၊ ဗိုလ်ရာညွန့်လမ်း
ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊
ရန်ကုန်မြို့။

"အငှားချထားခြင်းခံရသူ"

ဒေါ်ရင်လီရင့်
မြေကွက်အမှတ် (၁၄)၊ မြေတိုင်းရပ်ကွက်အမှတ်
အပိုင်း (၃)၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊
ရန်ကုန်တိုင်း။

## အသိသက်သေများ

၁။ အမည် ------------------------------
မှတ်ပုံတင်အမှတ် ----------------------
နေရပ်လိပ်စာ --------------------------
--------------------------------------

၂။ အမည် ------------------------------
မှတ်ပုံတင်အမှတ် ----------------------
နေရပ်လိပ်စာ --------------------------
--------------------------------------






SPECIAL ADHESIVE LABEL
FIFTY KYATS

# မြေငှားစာချုပ်

၁၉၉၈ ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် ၁၁၁၀၀/အဝပ်ိုး ၃/၀၃၅/ ဖြ... အရ ထုတ်ပေးသည်။
၂၉.၄.၉၈

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟုရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ______ မြို့နေ၊ ဦး ဒေါ်ခင်ဇော်မြင့် ၏၊ သား/သမီး ဖြစ်သော ဦးဘိုးမြင့် အမျိုးသားမှတ်ပုံတင်အမှတ် BHN.000၂၁၄ (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ ၆၀ ခုနှစ်၊ တန်ခူး လဆန်း/လပြည့်ကျော် ၁၂ ရက်နေ့၊ ၁၉ ၉၈ ခုနှစ်၊ ( ဧပြီ လ ၂၂ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှားစာချုပ်ရသူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်ရာ ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပိုစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နှောက်ယှက်ပျက်စီးစေခဲ့လျှင် အငှားစာချုပ်ရသူ အားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၂၂.၅.၁၉၉၈ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၂ ခုနှစ် ဧပြီ လ ၂၁ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၂၇၆၀/- ပြား – (ကျပ်နှစ်ထောင့်ခုနစ်ရာခြောက်ဆယ်/-ပြား) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း ၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း ၊ ဇူလိုင်လ –၁ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယတဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃–တွင် ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။




၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် ... အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန် ။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆–လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်ဖွဲ့ ... နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန် ။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌ သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့် ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန် ။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောက်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန် ။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြား အတွင်း အဆိုပါ မြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန် [illegible] အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ [illegible] အခြားနည်း အသုံးမပြုရန် ။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်ပတ်သက်၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန် ။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့် အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန် ။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂–အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ် ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန် ။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၈ ခုနှစ် အတွင်းတွင် ဖြစ်စေ ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည် ။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေ ကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ... ထို့ပြင် သို့တည်းမဟုတ် ... ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကို ဖြစ်စေ၊ အဆိုပါ မြေကွက်ကို ပြန်လည်သိမ်းယူနိုင်ခွင့်ကို ဖြစ်စေ ... ပယ်ဖျက်၍ အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော ...

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက် စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၂ ) ခုနှစ်၊ ဖေ လ၊ ( ၂၁ ) ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ ဒေါ်ဝိုးဝိုးမြင့် သည် ဤစာချုပ်ကိုအထက်၌ ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ - ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ______ ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ______ ဒုတိယညွှန်ကြားရေးမှူးချုပ်

ညွှန်ကြားရေးမှူး ______ တို့
မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ______

အငှားစာချုပ်ရသူ ဒေါ်ဝိုးဝိုးမြင့် က
လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

**သိသက်သေ။**

၁။ ဦးစိုးမိုးဦး (KYHE-၀၂၀၄၉၄၃)

၂။ ______

အထက်တွင် ရည်ညွှန်းထားသည့် မြေယာ

ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ______
မြေတိုင်းရပ်ကွက်အမှတ် အပိုင်း - ၃
ရန်ကုန်မြို့ လှိုင်သာယာ မြို့နယ်။
အတွင်းရှိ ______ တန်းစား၊ မြေကွက်အမှတ် ၁၄
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၃၃၆´၃၃ ပေ၊ အနံ ၂၄၄´ ပေခန့်ရှိသော အလား အလာ
အရှေ့လားသော် လမ်း
အနောက်လားသော် မြေကွက်အမှတ် - ၇
တောင်လားသော် မြေကွက်အမှတ် - ၁၃
မြောက်လားသော် မြေကွက်အမှတ် - ၁၅
အတွင်းရှိ မြေအားလုံး ဧရိယာ ၁.၈၈၅ ဧက၊ (စတုရန်းပေ ၈၂၁၀၆ )

ရန်ကုန်မြို့တော်

အိုးအိမ်ပုံစံ

အက်စ် - ၂၂

လှိုင်သာယာ ..................မြို့နယ် လူနေရပ်ကွက်အမှတ်............ စက်မှုဇုန်........................

မြေတိုင်းရပ်ကွက်အမှတ် အမှိုင်း(၃) မှ မြေကွက်အမှတ်........ ၁၄ ...........၏ မြေပုံ—

၁–လက်မလျှင် ၁၀၀ ပေစကေး




ရည်ညွှန်းချက်

...............................ဧရိယာ

စတုရန်းပေ ....... ၅၂၁၀၆ .......

ဧက ....... ၁.၁၈၈၅ .......

မြေတိုင်း(၄)

မြေတိုင်း(၃)

မြေတိုင်း(၂)

ဦးစိုးအေးရှိ
မြေတိုင်းဌာနမှူး

1 Inch = 50 Feet




Road



FRONT ELEVATION

SCALE 1/8" = 1'-0"

GARMENT FACTORY 60' x 180' x 29'

HTAN LIN AUNG (ENGG: CIVIL)



# MYANMAR ORIENTAL BANK LIMITED

မြန်မာ အရှေ့တိုင်း ဘဏ် လီမိတက်

No. 609, Mahabandoola Street, Lanmadaw Tsp. Yangon, Myanmar. Ph: 73497




DATE.11th,SEP,2000.

TO WHOM IT MAY CONCERN

This is to certify that the balance at the credit of Call Deposit A/C No ( 002.171.0004782 ) DAW YIN LEE YINT NRC NO ( 13/MASATA(P)000052 ) with Myanmar Oriental Bank Limited ( Lanmadaw ) as on ( 11.9.2000 ) was K-12,555,157/47 ( KYATS - TWELVE MILLION FIVE HUNDRED FIFTY FIVE THOUSAND AND ONE HUNDRED FIFTY SEVEN AND PYAS FORTY SEVEN ONLY.)

Your's Faithfully,

11/5/20

( Khin Mg Kyi )
Manager
Myanmar Oriental Bank Ltd.,
(Lanmadaw Branch)



To,

Registrar,
Companies Registration Office,
Ministry of National Planning & Economic Development,
Yangon.

Dated. the 200

Sir,

I hereby submit the following documents for Registration which are required under the Myanmar Companies Act.

Should you need further information regarding documents, I am pleased to furnish them without any hesitation.

1. Memorandum of Association.
2. Articles of Association.
3. Declaration of registration.
4. Declaration of registered office.
5. Declaration of legal version.
6. Translation of Certificate.
7. Company's (3) main objects.
8. List of directors.
9. Undertaking.



Yours sincerely,

Daw Yin Lee Yint
(Director)

COTTON WORLD GARMENT COMPANY LIMITED.